



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၅၉/၂၀၁၇ ။ ၂၀၁၇ ခုနှစ် ၊ ဇွန်လ ၂၂ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်မင်းဟန်

(ခ) **အဘအမည်** ဦးသက်လွင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/မဂတ(နိုင်) ဝ၇၄၄၂၉

(ဃ) **နေရပ်လိပ်စာ** အမှတ်(၄)၊ မြေညီထပ်၊ အခန်းအမှတ်-ဘီ၊ မြမာလာလမ်း၊ (၃) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံ့သာပုကျေးရွာအုပ်စု၊ နံ့သာပု(အပြင်)ကွင်း၊ အကွက်အမှတ် (၆၇၉)၊ ဦးပိုင် အမှတ်-၃၂ ရှိမြေ ၄၉ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၂၄,၄၂၆.၃၀၅ သန်း (စုစုပေါင်း ကျပ်နှစ်သောင်း လေးထောင် လေးရာ နှစ်ဆယ့်ခြောက်သန်းနှင့် သုံးသိန်း ငါးထောင်ခန့်)

22.6.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၇ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် ဇွန်လ ၂၂ ရက်

၁။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံ့သာပုကျေးရွာအုပ်စု၊ နံ့သာပု (အပြင်)ကွင်း၊ အကွက်အမှတ်(၆၇၉)၊ ဦးပိုင်အမှတ်-၃၂ ရှိ မြေ ၄၉ ဧကတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြချက်အား ၂၀၁၇ ခုနှစ် မေလ ၁၉ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၈/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုကြောင်း" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်)အား ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၅၉ /၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ သတ်မှတ်ထားသော ကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က) အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်

**ကန့်သတ်**

ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၇(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ၂၇(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း ဆိပ်ကမ်းနှင့်သိုလှောင်ရုံများ တည်ဆောက်ရန်အတွက် အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၇(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည် ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၇(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်း ကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံး အဆောင် တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက် အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန် အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ် ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား ၊ အရည် အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင် မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် လုပ်ငန်းပိုင်းဆိုင်ရာများကို အသေးစိတ်ညှိနှိုင်း ဆောင်ရွက်ရမည် ဖြစ်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ထုတ်ပြန်သော ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

၇။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနနှင့် Jetty တည်ဆောက်မှု လုပ်ငန်းပိုင်း ဆိုင်ရာများကို အသေးစိတ် ညှိနှိုင်းဆောင်ရွက်ရမည်ဖြစ်ပြီး ဆိပ်ခံတံတားတည်ဆောက်၍ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန် မြန်မာ့ဆိပ်ကမ်း အာဏာပိုင်နှင့် SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) တို့အကြား လိုအပ်သည့် လုပ်ငန်း ပိုင်းဆိုင်ရာ ချုပ်ဆိုဆောင်ရွက်သွားရန်၊ အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားကို စံချိန်စံညွှန်း နှင့်အညီ တည်ဆောက်သွားရန် မြန်မာ့ ဆိပ်ကမ်း အာဏာပိုင်မှ ကြီးကြပ်စစ်ဆေး နိုင်ရန်နှင့် တည်ဆောက်ရေးလုပ်ငန်း ပြီးစီးပါက အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် ခွင့်ပြုမိန့် ထုတ်ပေး နိုင်ရန်အတွက် ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ ဆိပ်ကမ်း အာဏာပိုင်သို့ ဆိပ်ခံတံတားနှင့် ပတ်သက်သည့် အချက်အလက်များအား တင်ပြ လျှောက်ထား

ရန်၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ ထုတ်ပြန်သော ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့်ကိုက်ညီစေရေးအတွက်လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၀။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှု ကြီးကြပ် ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင် ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားစနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက် တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၁။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက် ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၁၂။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှုအခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဖယားများ ဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနနှင့် အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်း ခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်း လိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂ (င) အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း ၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

22.6.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၅(စ)/မ-၀၁၁ /၂၀၁၇(၂၉၈-၁)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၂၂ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဧရာဝတီတိုင်း ဒေသကြီးအစိုးရအဖွဲ့ရုံး၊ ပုသိမ်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ SIM Company Limited (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)